အင်္ဂလန်နိုင်ငံတွင် ရှိုင်ခွလ်အစ္စလာမ်
ဟာဇရသ်မော်လာနာ မွတ်ဖ်သီ သကီး (အွတ်ဆ်မာနီ)
သခင်ကြီး ဟောကြားခဲ့သော
အစ္စလာမ်နှင့်ပညာရေး
ဘာသာပြန်ဆိုသူ
မွတ်ဖ်သီ မုဟမ္မဒ်အာစွင်းမ် (နဒ်ဝီ၊အဇွလ်ဟာစနီ၊မဇွာဟေ့ရီ)
စီစဉ်သူ
မော်လဝီ မုဟမ္မဒ် (အလ်ကောင်ဆရီ)
ကန့်သတ်

အင်္ဂလန်နိုင်ငံတွင် ရှိုင်ခွလ်အစ္စလာမ်

ဟာဇရသ်မော်လာနာ မွတ်ဖ်သီ သကီး (အွတ်ဆ်မာနီ)

သခင်ကြီး ဟောကြားခဲ့သော

# အစ္စလာမ်နှင့်ပညာရေး

ဘာသာပြန်ဆိုသူ

မွတ်ဖ်သီ မုဟမ္မဒ်အာစွင်းမ် (နဒ်ဝီ၊အာဗွလ်ဟာစနီ၊မဇ္ဇာဟေ့ရီ)

စီစဉ်သူ

မော်လဝီ မုဟမ္မဒ်(အလ်ကောင်ဆရီ)

# ""အစ္စလာမ့် ခလီဖာကြီးများ ကျမ်းရှင်"" စာရေးဆရာ ဦးသိန်းဝင်း(မြေထူး) ၏ အမှာစာ

မော်လာနာမွတ်ဖ်သီ အာစွင်းမ် (နဒ်ဝီ၊မဇ္ဇာဟေ့ရီ) တရားဟောကြားသည်ကို ကျွန်တော် လွန်ခဲ့သောလ အနည်းငယ်က ပထမဦးဆုံး အကြိမ် ကြားနာခွင့်ရခဲ့သည်။ မော်လာနာမှာ ပျိုရွယ်သော လူငယ်တစ်ဦးဖြစ်သည်။ သို့သော် သူ၏ဟောပြောပုံ၊ ကောက်ချက်ဆွဲ၍ ရှင်းပြပုံနှင့် လေယူလေသိမ်းမှအစ မြန်မာစကား အသုံးအနှုန်းများမှာ သဘာဝရင့် ဝါရင့်တစ်ဦး ပမာအတိုင်းပင်ဖြစ်သည်။ ထိုမျှမက ဟောပြောရမည့်အကြောင်း အရာ ရွေးချယ်မှုသည်လည်း အချိန်အခါ၊ အခြေအနေနှင့် အံဝင်ခွင်ကျဖြစ် နေသည်ကို တွေ့ရသည်။ သို့ဖြစ်၍ကျွန်တော် အလွန်မှပင် နှစ်ထောင်းအားရ ဖြစ်ခဲ့ရသလိုသူ့အပေါ်တွင် မျှော်လင့်ချက်လည်း များစွာ ထားမိခဲ့ပါသည်။

မော်လာနာသည် 'အဟော'နယ်ပယ်၌သာ ကျောက်ချမနေပါ။ ယခု 'အရေး' နယ်ပယ်အတွင်းသို့ ချင်းနင်းလာသည်ကို တွေ့လာရသည်။

'စီစစ်ပေးပါ၊ အမှာစာလည်း ရေးပေးပါ' ဟူသော တောင်းခံချက်နှင့်အတူ မော်လာနာက သူ၏ ဘာသာပြန်စာမူ တစ်စောင်ကို ကျွန်တော့်အား ပေးအပ်ခဲ့သည်။

သူ့စာမူကို ကြည့်လိုက်ရာ ကျွန်တော် အထူးကြည်ညို လေးစားသော မော်လာနာမွတ်ဖ်သီ မုဟမ္မဒ်သကီး အွတ်ဆ်-မာနီ M.A.L.L.B ၏ ပညာရေးနှင့် ပတ်သက်သော ဟော ပြောချက်တစ်ရပ်ကို ဘာသာပြန်ဆိုထားကြောင်း တွေ့ရသည်။

မော်လာနာ မွတ်ဖ်သီ မုဟမ္မဒ်သကီး အွတ်ဆ်မာနီ သခင်သည် ၁၅ (၂၁) ရာစု၏ ထိပ်သီးပညာရှင်ကြီးဖြစ်သည်။ ပါကစ္စတန်နိုင်ငံ ကရာချိမြို့ရှိ 'ဒါရွလ်အိုလူးမ်' အစ္စလာမ့် တက္ကသိုလ်၏ 'ဟဒီးဆ်'ပါမောက္ခ၊ ဥပဒေပညာရှင်၊ တရား သူကြီးဟောင်း၊ အပြည်ပြည်ဆိုင်ရာ အစ္စလာမ့်တရားဥပဒေ အကယ်ဒမီ၏ (၁၀)ဦး ကော်မတီဝင်၊ အရဗီ၊ အူရဒူ၊ အင်္ဂလိပ် ဘာသာများဖြင့် စာအုပ်စာပေများစွာကို ရေးသားခဲ့သော စာရေးဆရာကြီး ဖြစ်သည်။

ထိုကမ္ဘာကျော် ပညာရှင်ကြီး၏ ပညာရေးနှင့် ပတ်သက်သော ဟောပြောချက်. . . .၊ ထိုဟောပြောချက်ကို ပြန်ဆိုသူမှာ စကားအရာ လိမ္မာလှသော မွတ်ဖ်သီ အာစွင်းမ်၊ သို့ရှိရာ ကျွန်တော့်အနေဖြင့် အဘယ်မှာလျှင် နှမ်းဖြူးစရာ

လိုအပ်ပါမည်နည်း. . .။ အကယ်၍ နှမ်းဖြူးသော် ကိုယ်တိုင် ကြေကြေညက်ညက် မရှိသော ဧရာမနိုင်ငံရေး ဝေါဟာရများကို အတုံးလိုက်အတစ်လိုက်သုံးပြီး ကန်သင်းရိုးပေါ်မှ အသံကုန်ဟစ်၍ အစိုးရကို အာမနာပဆိုနေသူနှင့်သာ ပမာတူနေပါလိမ့်မည်။

'ပညာရေး' ဟူသော စကားသံကိုကြားတိုင်း 'ပညာဆည်းပူးခြင်းသည် မွတ်စ်လင်မ်တိုင်းအဖို့ ဖရ်ဇ်-မလုပ်မနေရတာဝန်' ဟူသော တမန်တော်မြတ် ﷺ ၏ ဩဝါဒတော်ကို သတိရလာမိပါသည်။

ဝါးဖောင်မျှောသည့် အတတ်၊ သင်္ဘောမောင်းသည့် အတတ်၊ လှည်းမောင်းသည့် အတတ်၊ လေယာဉ်မောင်းသည့် အတတ် စသည်တို့သည် ပညာများပင်ဖြစ်ပါသည်။ မှန်ပါသည်၊ ပညာဆိုသည်က ကျယ်ဝန်းလှသည်။ သို့ရှိရာ မသင်မနေရ ဖရ်ဇ် ပညာသည် အဘယ်နည်း. . .။

အလ္လာဟ်နှင့်ရစူလ်ကို သိနားလည်အောင် သင်ယူခြင်းနှင့် ကျင်သုံးတည်ဆောက်မှုအတွက် လိုအပ်သည့် အတိုင်းအတာအထိ အခြေခံပညာ သင်ယူခြင်းကို မလုပ်မနေရတာဝန်ဟု အေမာမ်ဂဇာလီ ﷺ သခင်က မိန့်ဆိုထားပါသည်။

သို့သော် အစ္စလာမ်သည် နိုင်ငံရေး၊ စီးပွားရေး စသည့်

လောကီ ရေးများနှင့် တသီးတသန့် ကန့်ထားသော သာသနာ မဟုတ်ပါ။ သို့ဖြစ်၍ ခေတ်ပညာများ သင်ယူခြင်းကို 'ဖရ်ဇ် ကေဖာယဟ်'ဟု အေမာမ်ဂဇာလီ သခင်က ပြဋ္ဌာန်းထားပါ သည်။ သို့လင့်ကစား 'အနောက်တိုင်းစာပေ မသင်လေနှင့်' ဟူ၍ 'တံခါးပိတ် ပေါ်လစီ တစ်ရပ်ကို မွတ်စ်လင်မ်တို့သည် (၁၀) စုနှစ်တွေနှင့်ချီ၍ ကျင့်သုံးခဲ့ကြသည်။ ဤသည်မှာလည်း နှစ်ပေါင်း ရာကျော်အောင် ကျွန်ပြုစိုးမိုးခဲ့သော ကိုလိုနီ နယ်ချဲ့ တို့ကို ရွံမုန်းစိတ်၊ နာကျည်းစိတ်အရ ယင်းတို့၏ ခေတ်မီ ပညာရပ်များကိုပါ စက်ဆုပ်လာခဲ့ သောကြောင့်ဖြစ်သည်။ (၁၉) ရာစု အစောပိုင်းအထိ ထိုအစွဲ မကျွတ်နိုင်ခဲ့သေးပါ။ သို့သော်နှစ်၅၀ာန အောင်မြင်မှုအတွက် ထို'တံခါးပိတ်ပေါ်လစီ' မှ ရုန်းထွက်ရမည် ဟူသောအမြင်ကို ရှားဟ် ဝလီယွလ္လာဟ် သခင်က စတင်ခဲ့ပါသည်။ ယခု မော်လာနာ မွတ်ဖ်သီ မုဟမ္မဒ် သကီးအွတ်ဆ်မာနီ သခင်က စွယ်စုံပညာ ရရှိနိုင်ရေးအတွက် ဥစ္စာရင်လို ဥစ္စာရင်ခဲကြရမည်ဟု လမ်းညွှန်ထားပါသည်။ အိုအရှင်. . .၊ မွတ်စ်လင်(မ်)တို့ အား ဤလမ်းညွှန်ချက်ကို ဖြည့်ဆည်းနိုင်သော စွမ်းအား ချီးမြှင့်တော်မူပါ။ အာမီးန်

*သိန်းဝင်း (မြေထူး)*

# စာအုပ်အကြောင်းတစေ့တစောင်း....

ယခု စာရှုသူလက်ဝယ်ရှိ စာအုပ်ငယ်သည် အစ္စလာမ့် ဂုဏ်ထူးဆောင် ပညာရှင်ကြီး ဟဇရသ် မော်လာနာ မွတ်ဖ်သီ သကီး(အွဆ်မာနီ) သခင် حفظه الله အင်္ဂလန်နိုင်ငံ ရောက်စဉ် ဟောကြားခဲ့သော တရားဒေသနာများအား ဘာသာပြန်ဆို ထားခြင်း ဖြစ်ပါသည်။

ထိုဟောကြားချက်ပါ စကားရပ်များသည် ကျွနုပ်တို့၏ လက်ရှိ ပတ်ဝန်းကျင်အတွက် အလွန်လိုအပ်သော စကားများ ဖြစ်နေပါသည်။ အမှန်ပင် ရွှေဖြင့်ကမ္ပည်း ထိုးထားအပ်သော စကားများဟု မမှိတ်မသုံ ခံယူမိသဖြင့် ဘာသာပြန်ဆို လိုက်ရပါသည်။

လေးစားအပ်သော မောင်လာနာကြီးက ပညာရေးနှင့် ပတ်သက် သည့် အဓိကအချက်ကြီး (၃)ချက်ကို ဟန်ချက် ညီညီ တင်ပြထားပါသည်။

(၁) မည်သည့်ပညာရပ်တွင်ဖြစ်စေ သူ့ပင်ကိုယ်၌ ဆိုးကျိုးဟူ၍ မရှိပါ။ သို့သော် (သာသနာ့ပညာ၊ခေတ်ပညာ) မည်သည့်ပညာရပ်တွင် ဖြစ်စေ၊ သင်ရိုးညွှန်းတမ်း၊ သင်ပေးသူ၊

သင်ယူသူနှင့် ပတ်ဝန်းကျင် စသည်တို့၏ ပယောဂကြောင့် ဆိုးကျိုးများ စိမ့်ဝင်လာတတ်ပါသည်။ သို့ရှိရာ သင်ယူရာ၌ မှန်ကန်သော ရည်စူးချက်ထားရှိရန် လိုအပ်ပါသည်။ ထိုလိုအပ်ချက်အတွက် ပဓါနအကျဆုံး ပုဂ္ဂိုလ်ကြီးများမှာ အာစရိကြီးများ ပင်ဖြစ်ပါသည်။

ထိုအာစရိကြီးတို့၏ ဖေးမမှု၊ မှန်ကန်သော ရည်စူး ချက်ဖြင့် သင်ယူဆည်းပူးသော် လူသားအား မျက်မှောက်နှင့် တမလွန် နှစ်ဌာနစလုံးတွင် ထိုပညာက မုချ အကျိုးပြုပါလိမ့် မည်။

မည်သည့်ပညာကိုမဆို သင်ယူရာ၌ သင်ယူသူသည် မိမိ၏ စိတ်တွင် 'ငါ. . လောကသို့ အဘယ်ကြောင့် ရောက်ရှိခဲ့ ရသနည်း၊ အဘယ် ရည်ရွယ်ချက်ဖြင့် လာခဲ့ရသနည်း၊ မည်သူ က စေလွှတ်ခဲ့သနည်း၊ တစ်နေ့သောအခါ စေလွှတ်သူ၏ ခုံရုံး ရှေ့တွင် ရပ်ရလိမ့်မည်။ လောကတွင် ငါလုပ်ဆောင်ခဲ့သမျှ လုပ်ဆောင်ချက်တိုင်းနှင့် ပတ်သက်၍ အစစ်အမေးခံရ လိမ့်မည်"ဟူသော သောကကို ထားရှိရပါလိမ့်မည်။ ထိုသို့ သောကထားသော် ကျွန်ုပ်တို့သည် အောင်မြင်မှု ပန်းတိုင်သို့ မုချ တက်လှမ်းနိုင်ပါလိမ့်မည်။

အစ္စလာမ်ကတောင်းဆိုသော ပညာဟူသည် လူသား

အား အရှင်မြတ်နှင့် ဆက်သွယ်ပေးသော ပညာပင်ဖြစ်သည်။ "အသင်သည်မိမိအား အဆင့်ဆင့် မွေးမြူဖန်ဆင်းတော်မူသော အရှင်မြတ်၏ နာမတော်ဖြင့် ဖတ်ပါလေ" ဟူသော ပထမဆုံး ဝဟီက မိးမောင်းထိုးပြနေပါသည်။

(၂) မွတ်စ်လင်မ်အနည်းစုရှိသည့် နိုင်ငံတိုင်းတွင် အစ္စလာမ်က တောင်းဆိုထားသော ပညာရေးစနစ်နှင့်အညီ ခေတ်ပညာနှင့် သာသနာ့ပညာရပ် နှစ်ခုစလုံးကို ပူးတွဲ သင်ကြားပေးသော ကိုယ်ပိုင်ကျောင်းများ၊ အစ္စလာမ့် ပညာရေး ဌာနများ ရှိသင့်သည်။ ယင်းကျောင်းတော်များမှ ပြီးမြောက် အောင်မြင်လာသော ရင်သွေးငယ်တိုင်းသည် သာသနာ့ အသိပညာနှင့် ခေတ်ပညာနှစ်ခုလုံးကိုတတ်မြောက် ကျွမ်းကျင်ကြသည့် အလျောက် ကမ္ဘာနှင့်ရင်ဘောင်တန်းနိုင်ကြပါလိမ့်မည်။

ဥပမာ "က- ကလေးငယ် ချစ်စဖွယ်" ဆိုတတ်သော ကလေးသည်"က- ကလိမာ ရွတ်ဆိုပါ။" ဟုလည်း ဆိုတတ်ရမည်။ "A" For apple ဆိုတတ်သော ကလေးသည် "A" for Allah nothing but Allah ဟု လည်း ဆိုတတ်ရမည်။

(၃) ကျောင်းတွင်သင်ပေးရုံမျှနှင့် ပညာရေးသည် မလုံလောက် သေးပါ။ အိမ်နှင့် ပတ်ဝန်းကျင်သည်လည်း ကျောင်း၏ပြုစုပျိုးထောင်မှုကို အထောက်အကူပေးသည့်

ပတ်ဝန်းကျင်ဖြစ်ရန် လိုအပ်ပါသည်။ ကလေးငယ်များ ကျောင်းတွင် လစ်ဟာခဲ့သည့် ကွက်လပ်များကို မိဘများက အိမ်တွင် ဖြည့်စွက်ပေးနေရမည်။ လိုအပ်လာလျှင် မိမိတို့ ရင်သွေးငယ်များ ထံမှပင် ပြန်လည်သင်ယူရမည်။

ဤကဲ့သို့သော အရေးပါပြီး အစွလာမ့်နည်းကျ ပညာရေးစနစ်အား တည်ဆောက်နိုင်ရန် လမ်းညွှန်ချက်များကို အချိန်တိုတို အတွင်း မောင်လာနာကြီးက မှာကြားခဲ့ပါသည်။

ကျွန်ုပ်ဘာသာပြန်ဆိုသူသည် ဆရာသခင်၏ ဟောကြားချက်ကို video clip မှတဆင့် အူရဒူဘာသာဖြင့် ရေးသားခဲ့ပါသည်။ ဘာသာပြန်ဆို ပြီးသောအခါတွင်လည်း ဟာဇရသ် မော်လာနာ သကီးဆပ်၏ တပည့်ရင်း၊ ကျွန်ုပ်၏ ချစ်မိတ်ဆွေ မွတ်ဖ်သီ အဖ်ဇလ် (ကရာချိ)ကို စစ်ဆေးစေခဲ့ပါသည်။ အဆုံးတွင် မွတ်ဖ်သီ သကီးဆပ်၏ အာဘော်အား မြန်မာဘာသာဖြင့် ဖလှယ်ရာတွင် ကျွန်ုပ်အကောင်းဆုံးဟု မှတ်ယူထားသည့် ဆရာ ဦးသိန်းဝင်း(မြေထူး)ကိုလည်း စိစစ်ပြီး အမှာစာကိုပါ ရေးသားပေးရန် မေတ္တာရပ်ခံခဲ့ပါသည်။

နိဂုံးချုပ်အနေနှင့် ဤစာအုပ်ငယ်အား ဘာသာပြန် ထုတ်ဝေနိုင်ရန် အကျိုးအကြောင်း ညီညွတ်စေသည့် အရှင်မြတ်ကို ဦးစွာ ကျေးဇူးတင်မိပါသည်။ ထို့နောက် ဤစာအုပ်

ငယ် ဘာသာပြန်နိုင်ရန် ဦးစွာပထမ အင်တာနက်မှ video clip ကို Download လုပ်ပေးပြီး ဘာသာပြန်ရန် တိုက်တွန်းခဲ့သော ကျွန်ုပ်ဇနီးသည်၏ ဖခင် ဟာဂျီ ဦးရှဖီး (မော်လမြိုင်)၊ အင်္ဂလိပ်စာသားများအား ပြန်လည် စာစီပေးခဲ့သော ကျွန်ုပ်၏ ချစ်ဇနီးနှင့် ဤစာအုပ်ကို ဘာသာပြန်ဆိုနိုင်ရန် ကျွန်ုပ်အား အရည်အချင်းများ မွေးဖွားပေးခဲ့သည့် ဆရာသခင်များ၊ ကျောင်းတော်များကိုလည်း အထူးကျေးဇူးတင်ရှိပါသည်။ ထို့အတူ အင်္ဂလိပ်စာသားများအား ပြန်လည်စီစစ်ပေးခဲ့သော ဆရာဖိုင်ဆွဲလ်(ခ)ကိုကျော်သူအောင် B.C.Sc(Hons:)၊ မြန်မာစာ သတ်ပုံများကိုပါ စိတ်ရှည်လက်ရှည် စစ်ဆေးပေးခဲ့သော ဆရာဇကရိယာ(ခ) ကိုမင်း B.A(his) နှင့် စာအုပ်၏ Layout ပိုင်းဆိုင်ရာကို တာဝန်ယူ ပေးခဲ့သော ဆရာ မုဟမ္မဒ် (အလ်ကောင်ဆရီ) တို့ကိုလည်း အရှင်မြတ် ကောင်းသော အစားများ ချီးမြှင့် ပေးသနားတော် မူပါစေ”ဟု ဒိုအာပြုဆုမွန်ချွေပါသည်။

စာရှုသူများလွယ်ကူစေရန် မြန်မာ၊ အူရဒူ၊ အင်္ဂလိပ်ဘာသာ စကား(၃) မျိုးလုံးကို ထည့်သွင်းဖော်ပြထားပါသည်။

မုဟမ္မဒ် အာစွင်းမ် (နဒ်ဝီ၊အဗွလ်ဟာစနီ၊မဇ္ဇာဟော့ရီ)

၁၀၊၈၊၂၀၁၄ (တနင်္လာနေ့)

# အစ္စလာမ်နှင့် ပညာရေး

(လေးစားအပ်သောလူကြီးမင်းများခင်ဗျား. . .)

ဤနေရာတွင် ကျွန်ုပ်ပြောဆိုလိုသော အကြောင်းအရာများအား လူကြီးမင်းများရှေ့မှောက်တွင် ကျွန်ုပ်အလျှင်မြောက်မြားစွာသော ဆရာသခင်များသည် ကျွန်ုပ်၏ တင်ပြချက်ထက် ပိုမိုကောင်းမွန်သည့် ပုံစံဖြင့်တင်ပြခဲ့ပြီးဖြစ်ပါသည်။ အချိန်လည်း အတန်ပင် ကုန်လွန်သွားပြီဖြစ်၍ လူကြီးမင်းတို့၏ သည်းခံနိုင်မှုနှင့် အောင့်အီးနိုင်မှုကို ကြာမြင့်စွာ မစမ်းသပ် သင့်တော့ပါ။ ထို့ကြောင့် အကျဉ်းချုပ်အားဖြင့် စကားနှစ်ခွန်း သုံးခွန်းမျှ တင်ဆက်လိုပါသည်။ မြင့်မြတ်တော်မူသောအရှင်မြတ်သည် မိမိ အသနားတော်နှင့် ကျေနပ်တော်မူသည့်အတိုင်း စိတ်စေတနာဖြူစင်စွာ ပြောဆိုနိုင်သည့် စွမ်းအား ချီးမြင့်ပေးသနားတော်မူပါစေ။

အလ်ဟမ်ဒုလိလ္လာဟ် ပဏာမအနေဖြင့် ဤနိုင်ငံတွင် "ရာဗေ့အဟ်" ကျောင်းတော်ကြီးနှင့် ထိုကဲ့သို့သော ကျောင်းတော်များ အရှင်မြတ်အလိုတော်ဖြင့် ဖွင့်လှစ်

လိုက်ခြင်းအပေါ် ကျွန်ုပ်၏ ဝမ်းမြောက်မှုကို ဦးစွာပြောကြား လိုပါသည်။

ကျွန်ုပ် ပထမဆုံးအကြိမ် (၁၉၇၈)ခုနှစ်တွင် ဤနိုင်ငံသို့ရောက်ခဲ့ပါသည်။ ထိုအချိန်တွေ့မြင်ခဲ့ရသော ပတ်ဝန်းကျင် အနေထားအရ ကျွန်ုပ်၏ပထမဆုံးနှင့် နောက်ဆုံး ဟောပြောမှုတွင် သောတရှင်တို့အား "ဤနိုင်ငံကဲ့သို့သော အခြားမွတ်စ်လင်မ်အနည်းစုသာရှိသည့် နိုင်ငံများတွင် မွတ်စ်လင်မ်တို့သည် သာသနာ့ပညာနှင့် ခေတ်ပညာ ပူးတွဲကျောင်းများကို ကိုယ်တိုင်မတည်ထောင်ပဲ မိမိတို့၏ အနာဂတ်အတွက် လုံခြုံစိတ်ချ နိုင်မည်မဟုတ်ပါ"ဟု တင်ပြခဲ့ပါသည်။

များစွာသော နိုင်ငံများတွင် Sunday School တနင်္ဂနွေနေ့ သီးသန့်ကျောင်းများ ရှိတတ်ပါသည်။ ထိုကျောင်းများတွင် အစ္စလာမ့်ရင်သွေးငယ်လေးများသည် တနင်္ဂနွေနေ့တိုင်း တက်ရောက်ကြပြီး သာသနာ့ဗဟုသုတများ သင်ယူကြသည်။ ထို့အပြင် မြောက်မြားစွာသော နေရာတို့တွင် ယနေ့လည်း ညနေချိန်တွင် Evening Classes ဆည်းဆာသင်တန်းများ ရှိနေပါသည်။ ထိုသင်တန်းများတွင်လည်း မွတ်စ်လင်မ့် ရင်သွေးငယ်များ သာသနာ့ပညာကို လာရောက်ဆည်းပူး နေကြသည်။

သို့သော် (၆)နာရီ (သို့မဟုတ်) (၈)နာရီခန့်အထိ ခေတ်ပညာကျောင်းများတွင် အချိန်ပေးပြီး ပညာသင်ယူထားရသည့် ကလေးငယ်တစ်ယောက်အဖို့ ခေတ်ပညာ ကျောင်းမှ ရရှိခဲ့သော အတွေးအာရုံများအား တနင်္ဂနွေသင်တန်း (သို့) ဆည်းဆာသင်တန်းများမှရရှိသော အသိပညာမျှဖြင့် မလွှမ်းမိုးနိုင်ပါ။

သို့သာမက များသောအားဖြင့် ကလေးငယ်များ၏ ဦးနှောက်ထဲတွင် "ဤသာသနာ့ပညာဆိုင်ရာ ဘာသာရပ်များသည် ကျွန်ုပ်တို့၏ အားလပ်ချိန်အား လုယူနေသည်" ဟူသော အတွေးအခေါ်များ နေရာယူတတ်ပါသည်။

ထို့ကြောင့် ကျွန်ုပ်သည် (၁၉၇၈) ခုနှစ်တွင် အလ္လာဟ်အရှင်မြတ်၏ နှစ်သက်မှုကိုရည်စူးပြီး သာသနာ့ပညာနှင့် ခေတ်ပညာ ပူးတွဲကျောင်းများအား ကိုယ်တိုင်တည်ထောင်ရန် မေတ္တာရပ်ခံခဲ့ပါသည်။ ထိုအချိန်တွင် ကျွန်ုပ်၏ မေတ္တာရပ်ခံသံမှာ လက်တွေ့ အကောင်အထည်ဖော်ခြင်း ကင်းမဲ့သည့် သဲကန္တာရတစ်ခုတွင် ဆိုခဲ့သောစကားနှင့် အလားသဏ္ဍာန်တူခဲ့ပေသည်။ အကြောင်းမူ ထိုအချိန်တွင် ကိုယ်ပိုင်အစ္စလာမ့်ကျောင်းများ တည်ထောင်ဖို့နေနေသာသာ ဗလီဝတ်ကျောင်းတော်များပင် လိုအပ်နေသေးသောကြောင့်ဖြစ်ပါသည်။

သို့သော် မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်သည် လူကြီးမင်းတို့အား မိမိအသနားတော်သက်သက်ဖြင့် ဤသတ္တိ၊ စွမ်းအားနှင့် စိတ်ဓါတ်များချီးမြှင့်ခဲ့ပါသည်။ ထိုကဲ့သို့သော စွမ်းအား၊ စိတ်ဓါတ်များ၏ ရလဒ်ကောင်းများအနေဖြင့် ယနေ့ အလ်ဟမ်ဒုလိလ္လာဟ် မြို့ကြီးပြကြီးများနှင့် မြို့ငယ်များတွင်ပါ ကိုယ်ပိုင်ကျောင်းများ ဖွင့်လှစ်ဖြစ်သွားပေပြီ။ ထို့အတွက် လူကြီးမင်းတို့အား မည်မျှပင် ချီးကျူးသြဘာပေးလိုက်ပါစေ နည်းနေဦးမည်သာဖြစ်ပါသည်။

အဘယ့်ကြောင့် ကျွန်ုပ်တို့အဖို့ ကိုယ်ပိုင်ကျောင်းများတည်ထောင်ရန် အလေးအနက်တွန်းအားပေးနေရသနည်း၊ အကြောင်းမှာ လူသားအကျိုးအတွက် ပြုစုထားသော ပညာရပ် အများစုတွင် ပင်ကိုယ်အားဖြင့် ဆိုးကျိုးဟူ၍ မရှိတတ်ပါ။ သို့သာမက ထိုပညာရပ်များအား လမ်းကြောင်းမှန် အတွေးမှန်ဖြင့်သင်ပေး/သင်ယူပြုပါမူ ထိုပညာရပ်များသည် အလ္လာဟ်အရှင်မြတ်ထံတော်ပါးသို့ လူသားအား ပို့ဆောင်ပေးမည့် အကြောင်းခံများ ဖြစ်သွားပေမည်။ ဘေးထွက်ဆိုးကျိုးများမှာ ထိုပညာရပ်၏ မူလဗီဇတွင် မရှိတတ်ပါ။ ထိုပညာရပ်ကို ပြုစုသူ၏ အတွေးအခေါ် ၊ ထိုပညာရပ်ကို သင်ကြားပေးသူများနှင့် ထိုပညာရပ်ကို သင်ကြားပေးရာ ပတ်ဝန်းကျင်များ

တွင်သာ ရှိတတ်သည်။

သိပ္ပံဟူသည် အရှင်မြတ်ထံတော်ပါးသို့လူသားအား ပို့ဆောင်ပေးနိုင်သည့် ထိရောက်လှသော အကြောင်းခံတစ်ခု ဖြစ်သည်။ သို့သော် သိပ္ပံပညာတွင် ပါရဂူမြောက်ကျွမ်းကျင်သူ များစွာတို့သည် အရှင်မြတ်ထံရောက်ရမည့်အစား အရှင်မြတ် ကိုပါ လက်မခံ ငြင်းဆန်သည့် အဖြစ်သို့ ဆိုက်ရောက်သွား သည်ကိုသာ တွေ့ရသည်။

အချုပ်ဆိုရသော် အသိပညာတစ်ခု၊ အတတ်ပညာ တစ်ခု၏ ပင်ကိုယ်ဗီဇတွင် ဆိုးကျိုးမရှိတတ်ပါ။ ဘေးထွက် ဆိုးကျိုးများ၏ မြစ်ဖျားခံရာမှာ မည်သူသင်ကြားပေးနေသည်၊ မည်သို့မည်ပုံ သင်ကြားပေးနေသည်၊ မည်သည့်အတွေးအခေါ် များဖြင့် သင်ကြားပေးနေသည်၊ မည်ကဲ့သို့ပတ်ဝန်းကျင်များ ဖန်တီးပေးနေသည် ဟူသော မေးခွန်းများ၏ နောက်ကွယ်တွင် ကိန်းအောင်းနေတတ်သည်။

အဘယ့်ကြောင့်ဆိုသော် မွတ်စ်လင်မ်မဟုတ်သူများ၏ ပညာရေးဌာနများသည် ရုပ်ဝါဒပေါ်တွင် မူတည်သည်။ ထိုရုပ်ဝါဒများမင်းမူနေသည့် ပတ်ဝန်းကျင်တွင် ထိုပညာ ရပ်များကို သင်ပေး/သင်ယူ လုပ်ကြသည်။ ထိုပတ်ဝန်းကျင် တွင် ရင်သွေးငယ်များသည် မိမိတို့ဘဝကို တည်ဆောက်

ကြသည်။ ထို့ကြောင့် ဖော်ပြပါပညာရေးဌာနမျိုးမှ ဆင်းလာသော ကလေးငယ်များသည် သာသနာနှင့် အလှမ်းကွာနေတတ်သည်။

ကျွန်ုပ်တို့ မွတ်စ်လင်မ်များကို ကိုယ်ပိုင်ပညာရေးဌာနများ ဖွင့်လှစ်ရန် တိုက်တွန်းရသည့်အကြောင်းမှာ အကယ်၍ ဖော်ပြပါ ပညာရပ်များအား မှန်ကန်သော အတွေးအခေါ် မှန်ကန်သည့် စိတ်ဓါတ်များဖြင့် သင်ကြားပေးသည်ရှိသော် ထိုပညာရပ်များသည် လူသားအား အရှင်မြတ်ထံ ပို့ဆောင်ပေးမည်မှာ မြေကြီးလက်ခပ်မလွဲပါ။

အကြောင်းမှာ. . . စစ်မှန်သော အသိပညာဟူသည် လူသားအား မိမိဘဝ၏ ရည်ရွယ်ချက်ကို သိမြင်စေရမည်။ လူသားအား လောကတွင် မည်သည့်ရည်ရွယ်ချက်ဖြင့်လာရောက်ရသည်၊ သက်တမ်း၏ ရည်ရွယ်ချက်ပန်းတိုင်သည် မည်သည့်အရာဖြစ်သည်၊ မည်သည့်နေရာသို့ပြန်လှည့်ရမည်၊ လောကတွင် မည်သို့မည်ပုံနေထိုင်ရမည်၊ စသည့် အချက်များအား ပဲ့ပြင်ဆုံးမမှုကင်းမဲ့သည့် ပညာမျိုးအား ပညာဟုမခေါ်ထိုက်ဘဲ ပညာမဲ့ဝါဒ ဟုသာ ခေါ်ထိုက်သည်။

ကျွန်ုပ်တို့အား အရှင်မြတ်ချီးမြှင့်ထားသော စည်းစိမ်တော်များအနက် အကြီးကျယ်ဆုံးမှာ လူသား၏ ရည်ရွယ်ချက်

ပန်းတိုင်ကိုသိရှိစေခြင်းပင်ဖြစ်သည်။ ရာစုနှစ်များစွာ ကတည်း ကပင် လူသားတိုင်းသည် မွေးဖွားလာခဲ့သည်၊ ကလေးအရွယ် သို့ရောက်လာခဲ့သည်၊ ပျိုရွယ်သောသက်တမ်းအတွင်း ဝင် ရောက်လာခဲ့သည်၊ ထို့နောက် ဇရာယွင်း၍ အိုမင်းမစွမ်း ဖြစ်လာခဲ့ရသည်၊ အဆုံးတွင် လောကအား နှုတ်ခွန်းဆက်သ ပြီး တမလွန်လောကသို့ ကူးပြောင်းသွားသည်။ မည်သူမဆို ဤလောကတွင် အမြဲမနေရပေ။ ဤအချက်များက လောက သည်လူသား၏ ထာဝရနေထိုင်ရာ မဟုတ်သကဲ့သို့ ပန်းတိုင် လည်းမဟုတ်ခြင်းကို သက်သေထူနေပါသည်။ သို့သာမက သင်္ခါရလောကသည် လူသားဖြတ်သန်းနေရသော ခရီးတစ်ခု သာဖြစ်ကြောင်း မီးမောင်းထိုးပြနေသည်။ ခရီးတိုင်းတွင် ရည်ရွယ်ချက်မှာ ရှိစမြဲဖြစ်သည်။ ရည်ရွယ်ချက်မဲ့သည့် ခရီး ဟူ၍ မရှိပါ။

လူသားသည် မိမိ၏ရည်ရွယ်ချက်အား မသိသော် တိရိစ္ဆာန်၏ ပမာသာဖြစ်ပေသည်။ တိရိစ္ဆာန်တစ်ကောင် မွေးဖွားလာခဲ့သည်။ ထို့နောက်စားသည်၊ သောက်သည်၊ အိပ် သည်၊ ထို့နောက်သေသည်။ ထိုမှအပ တိရိစ္ဆာန်တွင် အခြား မည်သည့် ရည်ရွယ်ချက်မျှ မရှိပါ။ လူသားသည်လည်း မိမိ၏ ရှင်သန်ခြင်း၌ မည်သည့်ရည်ရွယ်ချက်မျှမရှိဟု ထင်မှတ်သော်

တိရိစ္ဆာန်နှင့် လူသား၏ကြားတွင် အဘယ်ခြားနားချက်သည် ရှိပါအံ့နည်း။

မြင့်မြတ်တော်မူသော အလ္လာဟ် အရှင်မြတ်သည် ကျွန်ုပ်တို့အား သာသနာတော်၏ အကြောင်းခံဖြင့် သက်တမ်း၏ ရည်ရွယ်ချက်အားရှင်းလင်းပြသ ထားပေသည်။

မိမိသက်တမ်း၏ရည်ရွယ်ချက်အား သိရှိခြင်းသည် လူသားအား ပြစ်မှုကျူးလွန်ခြင်း၊ မတရားပြုခြင်း၊ နိုင်ထက်စီးနင်းပြုခြင်း၊ ဝတ္တရားချိုးဖောက်ခြင်းတို့မှ ရှောင်ကြဉ်စေသည်။ ယနေ့ လူကြီးမင်းတို့သည် လောက၏ ဒဿနိကဗေဒများအား လေ့လာကြည့်မည်ဆိုပါသော် လူတို့၏ ပြစ်မှုကျူးလွန်ခြင်း၊ ဝတ္တရားချိုးဖောက်ခြင်းတို့၏ မြစ်ဖျားခံရာတို့အား လေ့လာဆွေးနွေးနေကြသည်ကို တွေ့ရပေသည်။

အချို့သည်ဖော်ပြပါ အနိဋ္ဌာရုံတို့၏ အကြောင်းခံမှာ ဆင်းရဲနွမ်းပါးခြင်းဟု အဖြေထုတ်ကြသည်။ အချို့မှာ ပညာရည်နည်းပါးမှုကြောင့်ဟု သုံးသပ်ကြသည်။ အမျိုးမျိုးသော အကြောင်းတရားများကြောင့်ဟု ဆုံးဖြတ်နေကြသည်။

အကယ်၍ ဆင်းရဲနွမ်းပါမှုကြောင့် အထက်ပါ ဖြစ်ရပ်များဖြစ်သည်ဆိုလျှင် ငွေကြေးအလျံပယ်ရှိပြီး သယံဇာတပေါကြွယ်ဝသည့် စည်းစိမ်ရှင်နိုင်ငံများတွင် ထိုအချက်များ

ပပျောက်သွားသင့်သည်။ သို့သော် ငွေကြေးအလျှံပယ်ရှိပြီး စည်းပွားရေးဆိုင်ရာအမြင်များ ဆင့်ကဲတိုးတက်နေသော နိုင်ငံများတွင် ထိုပြစ်မှုကြီးများ လုံးဝ ပပျောက်သွားရမည်သာ ဖြစ်သည်။ သို့သော် ရာဇဝတ်မှုများ တစ်နေ့တစ်ခြားတိုးပွားလျက်သာ ရှိနေသည်မှာ အံ့သြစရာပင်ဖြစ်သည်။

အကယ်၍ ပညာရေးခေါင်းပါးခြင်းကြောင့် ဖြစ်ရသည်ဆိုသော် ရာခိုင်နှုန်းပြည့် ပညာရေးအား အလေးပေးသော နိုင်ငံများတွင် ထိုပြစ်မှုများ အစအနပင်မကျန်အောင် ရှင်းလင်းသွားသင့်သည်။ သို့သော် ပို၍သာ တိုးပွားနေလေသည်။

ထိုပြစ်မှုများအား အမြစ်လှန်ပစ်နိုင်သည့် တစ်ခုတည်းသောနည်းလမ်းမှာ လူသားသည် မိမိဘဝရည်ရွယ်ချက်အား ဤသို့ သတိရလိုက်ခြင်းပင်ဖြစ်သည်။ "ငါသည် လောကကို မည်သည့်ရည်ရွယ်ချက်အတွက် လာရောက်ရသနည်း၊ ငါ့ကို မည်သူက စေလွှတ်ထားသနည်း၊ တနေ့ထိုအရှင့်ခုံရုံးမှာ ငါ့ရဲ့လုပ်ရပ်တစ်ခုချင်းစီနဲ့ ပတ်သက်ပြီး စစ်ကြောခြင်းခံရလိမ့်မယ်. . . ."

ထိုသို့သောအတွေးများမရှိသမျှ လူသား၏ နှလုံးသားထဲတွင် တာဝန်သိစိတ်နှင့် သစ္စာရှိစိတ်များ ပေါ်ပေါက်

လာမည် မဟုတ်ပေ။

မော်လာနာရူမီ رحمۃ اللہ علیہ သခင်ကြီးက "မဆ်နဝီ" ကျမ်းတွင် အမိန့်ရှိထားပါသည်။

"အသိပညာတိုင်း၏ အသက်မှာ အရှင်မြတ်ထံပါးတွင် ခစားဝင်ချိန် မိမိသည် မည်သည့်အဖွဲ့တွင် ပါဝင်မည်နည်း၊ မည်သို့အခြေအနေရှိမည်နည်း၊ ဟူသည့် အတွေးမွေးဖွားပေး ခြင်းဖြစ်သည်။"

ဤအသိသည် အကြီးမားဆုံးသော အသိပင်ဖြစ်သည်။ အကယ်၍ ဤကဲ့သို့သော အသိစိတ်နှင့် နောင်တမလွန်တွင် အရှင်မြတ်၏ ရှေ့မှောက်၌ ဖြေဆိုရမည့် မေးခွန်းများနှင့် ပတ်သက်သည့် သောကမရှိပါက လူသားသည် မည်မျှပင်ကြီးကျယ်သော သိပ္ပံပညာရှင်ဖြစ်စေ၊ အင်ဂျင်နီယာဖြစ်စေ၊ ဒေါက်တာ ဖြစ်စေ၊ ယုတ်စွအဆုံး သာသနာ့ပညာရှင်ဖြစ်စေ ထိုသူတို့ သင်ယူတတ်မြောက်ထားသော အသိပညာများမှာ အသိပညာမဟုတ်၊ မသိမိုက်မဲမှုသာဖြစ်ချေမည်။ ပြစားရန်သက်သက် တတ်မြောက်ခြင်းသာဖြစ်ပေမည်။

မိတ်ဆွေအပေါင်းတို့. . .အရှင်မြတ်အား မှန်ကန်သော သတိရ တ'သခြင်း ကင်းမဲ့သည့် ကျောင်းများသည် အသုံးမကျသော ကျောင်းများသာဖြစ်သည်။

မြင့်မြတ်တော်မူသော အရှင်မြတ်သည် ကျွန်ုပ်တို့အား ချီးမြှင့်ထားသော သာသနာတွင် ဤသို့အမိန့်ရှိထားပါသည်။ "အသင်တို့၏ လောကီဆိုင်ရာကိစ္စရပ်များသည် လောကုတ္တရာဆိုင်ရာဗိမာန်သို့ တက်လှမ်းနိုင်သည့် လှေခါးဖြစ်သည်။" ဆိုလိုသည်မှာ လောကီရေးတွင်လည်း သာသနာရေးကို ရှာဖွေနိုင်သည်။ ဤလောကတွင်း မှီတင်းနေထိုင်နေသည့် ကျွန်ုပ်တို့အား ဤသို့ဆုမွန်ကောင်းတောင်းရန် သင်ကြားပေးထားပေသည်။

﴿رَبَّنَا آتِنَا فِي الدُّنْيَا حَسَنَةً وَفِي الْآخِرَةِ حَسَنَةً وَقِنَا عَذَابَ النَّارِ﴾البقرة:٢٠١

"အိုကျွန်ုပ်တို့အား အဆင့်ဆင့် ပြုစုပျိုးထောင်တော်မူသော အရှင်မြတ်. . ကျွန်ုပ်တို့အား လောကီဘဝတွင်လည်း ကောင်းခြင်းတရားများချီးမြှင့်တော်မူပြီး နောင်တမလွန်ဘဝတွင်လည်း အကောင်းတရားများ ချီးမြှင့်တော်မူပါ။ ထို့နောက် ကျွန်ုပ်တို့အား ဂျဟန္နမ်ငရဲမီး၏ ပြစ်ဒဏ်မှ ကယ်တင်တော်မူပါ။"

အသင်တို့သည် လောကတွင်လည်း ကောင်းစားရမည် အာခေရသ်တွင်လည်း ကောင်းစားကြရပေမည်။ (နှစ်လွှာပေါင်းသောတစ်ရွက်) ဖြစ်ရမည်။

ကျွန်ုပ်တို့သည် အစ္စလာမ့်ကျောင်းတော်များ၊ ကိုယ်ပိုင် အစ္စလာမ့်ပညာရေးဌာနများ တည်ထောင်ခြင်းဖြင့် ဖော်ပြပါ အတွေးအခေါ်အား သွန်းလောင်းပေးရန် ဆန္ဒပြုပါသည်။ အစ္စလာမ့်ရင်သွေးငယ်များအနက် ဒေါက်တာဖြစ်စေ၊ သိပ္ပံပညာရှင်ဖြစ်စေ၊ အင်ဂျင်နီယာဖြစ်စေ လောက၏ မည်သည့်ကဏ္ဍတွင် သက်ဝင်လှုပ်ရှားနေပါစေ၊ ထိုကလေးငယ်၏ အတွေးထဲတွင် "ငါသည် တစ်ပါးတည်းသော အရှင်မြတ်၏ ကျေးကျွန်ဖြစ်သည်။ ငါသည်ဤလောကတွင် သခင်အဖြစ်နှင့် လာသည်မဟုတ် ကျွန်အဖြစ်နှင့်သာ လာရခြင်းဖြစ်သည်။ တစ်နေ့ အရှင်မြတ် ရှေ့တော်မှောက်တွင် အခစားဝင်ကာ အဖြေပေးရမည်ဖြစ်သည်။" ဤကဲ့သို့သော အတွေးအခေါ်များ လူသားတိုင်း၏ စိတ်တွင် နေရာယူသွားသည့်နေ့တွင် အင်န်ရှာအလ္လာဟ် ဤလောကကြီးသည်လည်း ချမ်းမြေ့သာယာသည့် ဥယျာဉ်အသွင်ပြောင်းသွားပေမည်။

အမှန်မှာ အစ္စလာမ့် ပညာရေးဌာနများသည် လူသားအား အရှင်မြတ်နှင့် ဆက်သွယ်ပေးမည့် အကြောင်းခံများ ဖြစ်ပေသည်။ ထိုဌာနများ၏ အကြောင်းခံဖြင့် လူသားသည် မိမိဘဝကို ပြုပြင်ထိန်းကျောင်းနိုင်ပေမည်။

ဤကဲ့သို့သော အစ္စလာမ့် ပညာရေးဌာနများသည်

တန်ဖိုးထား အသိအမှတ်ပြုခြင်းခံထိုက်ပေသည်။ ဤသို့သော ပညာရေးဌာနများကို များစွာ တိုးချဲ့ဖွင့်လှစ်ရန်လည်း အရေး ကြီးပါသည်။ ကျွန်ုပ်တို့ လူမျိုးစု တစ်ခုလုံးအတွက် သီးသန့် ပညာရေးဌာနများ ရှိသင့်ပါသည်။ ထိုဌာနများတွင် အစ္စလာမ့် မျိုးဆက်သစ် ရင်သွေးငယ်လေးများသည် မိမိတို့အရည်အချင်း နှင့်အညီ သာသနာ့စိတ်ဓါတ် ရင့်သန်စေသော သာသနာ့ပတ် ဝန်းကျင်၏ အေးရိပ်အောက်တွင် နေထိုင်ပြီး ပညာများ သင်ယူနိုင်သည်။ ပညာရေးတွင်အဆင့်မြင့်သလို သာသနာရေး ရှု့ထောင့်အရလည်း သာသနာ့ ပတ်ဝန်းကျင်တွင် ကြီးပြင်း လာသည့် မွတ်စ်လင်မ်ကောင်း တစ်ယောက် ဖြစ်လာပေမည်။ ဤသို့အားဖြင့် လောက၏ ဇာတ်ခုံပေါ်တွင် နမူနာကောင်းများ တင်ဆက်နိုင်ရမည်။ အထူးသဖြင့် ဤကဲ့သို့သော နိုင်ငံများ တွင် ပိုမိုဖြစ်သင့်ပါသည်။

မြင့်မြတ်တော်မူသော အရှင်မြတ်၏ ကျေးဇူးတော်ဖြင့် ယနေ့ ဤကလေးငယ်သည် ဤကျောင်းတော်၏ ဘရ်ကသ် ဖြင့် ကုရ်အာန်ကျမ်းတော်မြတ်အား အာဂုံဆောင်နိုင်ခဲ့သည်။ ကုရ်အာန်ကျမ်းတော်မြတ်နှင့်အတူ အခြားသော ဘာသာရပ် များလည်း ဖတ်ကောင်းဖတ်ခဲ့လိမ့်မည်။ အရှင့်ကျမ်းတော် မြတ်ကုရ်အာန်၏ ဘရ်ကသ်ဖြင့် အခြားသော ဘာသာရပ်များ

တွင်လည်း ထူးချွန်မှုပေးသနားတော်မူပါ။

ဤနေရာတွင် ထပ်လောင်းပြီး အာရုံပြုစေလိုသည်မှာ သာသနာ့ပညာ သင်ပေးရခြင်း၏ ရည်ရွယ်ချက်သည် သာသ-နာ့ပညာရေးဌာနများတွင် သင်ယူရုံမျှဖြင့် တင်းပြည့် ကျပ်ပြည့် မအောင်မြင်နိုင်ပါ။ သို့သာမက အိမ်၏ ပတ်ဝန်းကျင်သည် လည်း ထိုပညာရေးဌာန၏ သဘောထားဖြင့် ကိုက်ညီမှုရှိနေရမည်။

အစ္စလာမ့်ပညာရေးဌာနသည် ကလေးငယ်များအား နမားဇ်ဖတ်ရန်၊ (အစ္စလာမ့်နည်းကျ) အစားအစာ စားသောက်ရန် သင်ပေးမည်။ မည်သည့်ကိစ္စသည် လုပ်ပိုင်ခွင့်ရှိသည်၊ မည်သည့်ကိစ္စသည် လုပ်ပိုင်ခွင့်မရှိ အပြစ်ဖြစ်သည်၊ စသည်ဖြင့် သွန်သင်ဆုံးမလိုက်သည်။ သို့သော် အိမ်သို့ရောက်သောအခါ ကျောင်းမှ ဆရာဆုံးမလိုက်သည့် ပြစ်မှုများတွင် မိဘများ နစ်မွန်းနေကြောင်း တွေ့လိုက်ရပါက ကလေး၏ စိတ်ထဲတွင် ဝိရောဓိ(ပြောင်းပြန်မြင်ကွင်း)ဖြစ်သွားမည်။ ထိုဝိရောဓိဖြင့် ကျင်လည်နေသော ကလေးငယ်၏ ဘဝသည် တည်ငြိမ်မှုကင်းမဲ့ပြီး ချို့ငဲ့မှု၏ ပစ်မှတ် ဖြစ်သွားပေမည်။

ထို့ကြောင့် အစ္စလာမ့်ပညာရေးဌာန၌ ကလေးငယ်များအား ပညာသင်ကြားရန်နှင့် ပြုစုပျိုးထောင်ပေးရန်

တာဝန်ရှိသည်။ ထိုထက် မိဘများ၏ တာဝန်သည် ပိုမိုကြီးမား ပေသည်။ ကလေးငယ်များ မိမိတို့၏ အရိပ်အောက်သို့ ပြန် လည်ရောက်ရှိလာသည့် အခွင့်ကောင်းအား တန်ဖိုးထား ရမည်။ မိမိတို့မလုပ်ဆောင်နိုင်သည့် ကိစ္စရပ်များအား ကလေး ငယ်များသည် မိမိတို့ထံ ဆောင်ကြဉ်းလာနေပေသည်။

ကျွန်ုပ်သည် မြောက်မြားစွာသော အစ္စလာမ့်ပညာရေး ဌာနများကို တွေ့ဖူးပါသည်။ ကလေးငယ်များသည် ကျောင်း တွင် သင်ယူဆည်းပူးခဲ့သော ပညာရပ်များအား အိမ်သို့ ရောက်ရှိသောအခါ မိဘများကို သင်ပေးကြသည်။ မိဘများ သည် ကလေးငယ်များ၏ အကြောင်းခံဖြင့် အစ္စလာမ့် စာပေများ သင်ယူဆည်းပူးကြသည်။ ဤနည်းလမ်းဖြင့် အိမ်၏ ပတ်ဝန်းကျင်သည်လည်း ကောင်းမွန်သွားပေသည်။ ဤကဲ့သို့ သော ပုံရိပ်များ ဖြစ်ပေါ်စေရန် အစ္စလာမ့်ကျောင်းတော်များ သို့ ကလေးငယ်များအား စေလွှတ်လိုက်သည့် မိဘတိုင်း၏ နှလုံးသားတွင် ခံစားချက်တစ်ခုရှိနေရမည်။ “ငါသည် ငါ့ ကလေးအား ကျောင်းသို့ပို့ပေးပြီး မော်ကွန်းဝင် ကိစ္စရပ်များ အား အကောင်အထည်ဖော်နေသည်၊ ငါ့ကလေးကျောင်းတွင် သင်ယူခဲ့သည့်အချက်များအား ငါ့ဘဝတွင်လည်း လက်တွေ့ အကောင်အထည်ဖော်ရမည်။ ငါ့ကလေးအတွက် သင်ယူခဲ့

သမ္မာ ခိုင်မာစေရန် ပတ်ဝန်းကျင်တစ်ခု ဖန်တီးပေးရမည်။ ထိုပတ်ဝန်းကျင်နှင့် ဟန်ချက်ညီစွာ ငါ့ရင်သွေးငယ်သည် မိမိဘဝအားထူထောင်နိုင်ရမည်။" ဤကဲ့သို့သော အတွေးများ၊ ခံစားချက်များ မိဘများ၏ ရင်တွင်းဝယ် ကိန်းအောင်းသွားပြီး ဟန်ချက်ညီစွာ အနာဂတ်ခရီးဆက်ပါက အင်န်ရှာအလ္လာ (အရှင်မြတ်အလိုတော်ဖြင့်) နောင်ပေါက်ဖွားလာမည့် မျိုးဆက်သစ်များသည် လောကီ၊ လောကုတ္တရာ ရှုထောင့် နှစ်မျိုးစလုံးတွင် မွန်မြတ်၊ အောင်မြင်မှုတို့အား ဆွတ်ခူးရရှိသွားပေမည်။

ထို့ကြောင့် နိဂုံးတွင် အရေးပါသော ပေးစာတိုတစ်ခုအား မျှဝေလိုသည်မှာ "အစ္စလာမ့်ကျောင်းများသို့ ကလေးငယ်များအား ပို့ပေးနေသည့် မိဘနှစ်ပါးနှင့် အိမ်သူ/သားများသည် မိမိတို့အတွက်တာဝန်တစ်ခုကို အသိအမှတ်ပြုထားရမည်။ "ရင်သွေးငယ်များ ကျောင်းတွင် သင်ယူခဲ့သမျှကို အိမ်၏ ပတ်ဝန်းကျင်တွင် လက်တွေ့ ပြန်လည်လေ့ကျင့်ပေးပြီး မိမိဘဝတွင်လည်း ထိုအချက်အား အကောင်အထည် ဖော်နိုင်ရန် ကြိုးစားရမည်'။

ဤအချက်များ ဟန်ချက်ညီစွာ ဖြစ်ပေါ်သွားပါက အရှင်မြတ်အလိုတော်၊ အရှင်မြတ်၏ ကရုဏာတော်အရ အရှိန်အဟုန်ပြင်းစွာ မွတ်စ်လင်မ်ပတ်ဝန်းကျင်တွင် တိုးတက်

နေသော ဤနိုင်ငံတွင် ထပ်မံတိုးတက်ဖွယ်ရာ လမ်းကြောင်းများရှိပေသည်။ လူကြီးမင်းတို့သည် လောကတစ်ခုလုံးအတွက် အကောင်းဆုံးနမူနာကောင်းတစ်ခု ဖြစ်နိုင်ပေမည်။

မြင့်မြတ်တော်မူသော အရှင်မြတ်သည် မိမိ၏ သနားကရုဏာတော်ဖြင့် ကျွန်ုပ်တို့အားလုံးအား ပြုလုပ်နိုင်စွမ်းချီးမြှင့်ပေးသနားတော်မူပါစေ။ ထို့ပြင်ဤကဲ့သို့သော သာသနာ့ဌာနများ၏ အကျိုးဆက်များကို တိုးတက်ပြန့်ပွားစေ တော်မူပါစေ။ စိတ်စေတနာဖြူစင်စွာဖြင့် ကြိုးကြပ်သူများ၏ ကြိုးပမ်းမှုအား လက်ခံသဘောတူတော် မူပါစေ။ အာမီးန်

وآخر دعوانا أن الحمد لله رب العالمين .

## Islam and Education

On this occasion what I wanted to say has to some degree been covered in a better manner by the scholars before me.Much time has elapsed and it would be inappropriate for me to test your tolerance and patience, therefore I would like to convey a few things briefly. May Allah grant me the ability to express it in the best way possible and with the utmost sincerity.

Firstly, I would like to express my joy that in this country, Rabia school and other institutions like it have been established by the grace of Allah.

I came in this country in 1978 for the first time,based upon the situation that I saw in this country, in my first and final speech I requested the listeners present,that wherever the Muslims are in minority to secure our future, which is not

possible without establishing our own academic institutions.

In many countries there were Sunday school. Every Sunday, children would attend them and learn something.In many places there are evening classes that children attend.

But the reality is, whether it's a sunday school or an evening class, the child who attends regular school from 6-8 hours, where he has learnt and been affected by its atmosphere all day, its effect cannot simply be washed off by attending a mere evening class.

Rather the child sees the class as an obstacle which has snatched away his free time. Be it a Sunday school or evening class.

Therefore the request I made in 1978 to establish our own educational institutions at the time may have appeared as something said light heartedly, and something far fetched as there were

a shortage of mosques let alone Islamic school.

But by the grace of Allah, he granted you the ability to make it a reality that now in every major city as well as small towns our own educational institutions are being established, because of which many congratulations would be insufficient.

Why do we stress so much on educational institutions? The reality is that the subjects which have been set up for the benefit of mankind are not faulty in essence, instead if they are learnt and taught correctly with the right conscience it would be a means of reaching Allah [s.w.t] Hence the fault is not in the knowledge however it arises in the thinking of the person who compiles it, teaches it and the environment in which it is taught.

Science is very effective means of reaching Allah but we see most people who have reached

great heights in this field, instead of reaching Allah [s.w.t] end up rejecting Him.

So the matter isn't about any subject or field being wrong, the matter is about the person who teaches it, how he is teaching it, with which motive is he teaching it and the atmosphere he creates when doing so.

The non-Muslim institutions are centred on materialism, directing the child towards that. That is why when the child leaves such a place he is distanced from religion.

The reason why we stress on establishing our very own educational institutions, is so those very subjects being taught with the right direction/motive encouragement, can direct one towards Allah.

Real knowledge is that which enlightens us with the purpose of our lives.That knowledge which cannot tell a person why he came to this

world, the purpose of his life, where he is headed and how he is supposed to lead this life, that kind of knowledge isn't knowledge it is ignorance.

The greatest thing Allah [s.w.t] has granted us is the knowledge of our purpose.We have seen for ages that man is born, becomes a child, becomes young, becomes old and then eventually passes away.

No one stays here permanently. This is proof that this world is not ones abode rather it's a journey which one is undertaking. No journey is without a purpose.

If man doesn't realise the purpose of his lifeand thinks he's born just as animals are, to eat, drink, sleep then die, likewise i have no purpose like them then there remains no defference between him and animals.

Allah [s.w.t] through our faith has told us our purpose of coming into this world.It is the

same realisation that saves a person from crimes, atrocities and injustice.

If you view the philosophies of the world, people debate on the reasons why crimes and injustice occur.Some say the cause is poverty, some say illiteracy, different theories have been put forward.

If poverty was the reason then in well-off areas crimes should stop, rather in the well-off /affluent areas crimes are greater.

If illiteracy was the reason then crimes in educated/cultured areas should be non existent but they aren't.

So to stop the crimes, the only method is to make mankind realise their purpose, who has sent him, and indeed to Him we shall give an account of our deeds.

Until this knowledge is attained a person does not realise his duty and is not in a position to

be a better person.

Maulana Rumi [r.h] says in Mathnawi; "The soul/essence of all knowledge is that you realise your situtation when you are present in front of Allah".

What state will I be in when I'm present in front of Allah?This is the greater knowledge and if this is not there, whether the man become a scientist, engineer, doctor or even a scholar, if there is no worry for the hereafter and the realisation of being accountable in front of Allah, then all such knowledge is ignorance.

[Couplet] 'That knowledge is ignorance which doesn't show the way to the friend, that Madrassa is useless where the remembrance of the almighty is not present'.

Through this religion Allah has blessed us with this explanation; Your worldly life can also become your faith, rather the whole world can be

your faith.This world is a mean of reaching faith, and in this world we are taught to make this dua;

﴿رَبَّنَا آتِنَا فِي الدُّنْيَا حَسَنَةً وَفِي الْآخِرَةِ حَسَنَةً وَقِنَا عَذَابَ النَّارِ﴾البقرة:٢٠١

Our Lord! grant us good in this world and good in the hereafter, and save us from the chastisement of the fire.

'May your worldly life and your hereafter become properous.'

And through these Islamic schools and institutions we need to be concerned, that whether the child becomes a doctor, scientist, engineer or anything else, he should first and foremost know that he did not come into this world as a God, rather as a slave of Allah and will be answerable to him one day.

The day this realisation is inculcated, the world will be an abode of peace.

Hence islamic institutions are in reality a means for a person to reach Allah and a means to better our lives.

All such institutions are worthy of appreciation and there is much need for their numbers to grow. Our community needs to be such that we have our own educational insti- tutions through which children get a good education from the onset, in a religious environ- ment with proper religious knowledge.Such an environment is presented which nourishes them resulting in good Muslims,such that they are worthy of becoming model Muslims for the world to see [especially in these countries].

By Allah's grace and mercy this child has memorised the Qu'ran via this school clearly he may have studied other subjects as well.May Allah [s.w.t] through the bleesing of the Qur'an grant him expertise in the other subjects too.

But the other issue that I would like to draw your attention towards is; knowledge gained from just an educational institution doesn't completely serve the purpose until the environment at home is in accordance with the institution.

If the institution teaches the child to pray Salah, manners of eating and vices/sins, yet when the child comes home he sees his parents engaged in the same kind of sins which his teacher forbade, this creates an opposition in his heart and as a result his life is deprived of constancy.

Hence the bigger the responsibility of the institution is for the child's upbringing, the greater the responsibility is of the parents to make sure that when their children comes to them [correcting their wrong behaviour] they count themselves lucky that what they could not do themselves their children are assisting them to the

right path.

I have seen some institutions [which may be present here as well] where the children learn and then teach the parents whatever they learn when they go home, all the while improving the atmosphere at home as well. This can be possible when every person who sends their child to an Islamic school realises that; it is a great task I am undertaking by sending my child to this institution and whatever the child learns there, even I have to adopt it in my life and I have to create an environment such that whatever he learns there, he should be able to strengthen it at home and therefore make his life better. If this realisation is there, our people /generations will flourish with integrity, reaching great heights, worthy of success in the world and the hereafter.

In conclusion, the parents who are sending their children into these institutions should take it

upon themselves to put into practice at home what the child is learning, and act upon it themselves.

If this happens insha Allah by Allah's grace our institutional progress will increase and you will be an example /model for the world.

May Allah by His grace and mercy grant us the ability, may He spread the fruits of these institutions and grant truthfulness and sincerity for those running it and accept their efforts.

وآخر دعوانا أن الحمد للّٰه رب العالمين .

بسم اللہ الرحمن الرحیم

# اسلام اور تعلیم

واقعہ یہ ہے کہ اس موقع پر جو کچھ میں کہنا چاہتا تھا؛ مجھ سے پہلے حضرات علمائے کرام اس میں سے بہت سی باتیں اس طرح فرما چکے ہیں جو مجھ سے زیادہ بہتر انداز میں آپ تک پہونچکی ہے۔ وقت بھی کافی ہو چکا ہے اور آپ حضرات کے صبر و ضبط کا امتحان زیادہ لینا بھی مناسب نہیں ہے. اس لئے بہت اختصار کے ساتھ دو تین باتیں عرض کروں اللہ تبارک وتعالی اپنے فضل وکرم سے اپنی رضا کے مطابق اخلاص کے ساتھ کہنے کی توفیق عطا فرمائیں.

سب سے پہلے تو اس بات پر اپنی مسرت کا اظہار کہ الحمد للہ اس ملک میں ''رابعہ اسکول اور اس جیسے بہت سے تعلیمی ادارہ اللہ تعالی کے فضل وکرم سے قائم ہو گئے ہیں. میں سب سے پہلے ۱۹۷۸ م میں اس ملک میں آیا تھا، اور اس وقت کی جو فضا تھی، اس میں اپنی پہلی اور آخری تقریر میں میں نے اپنے مخاطب حضرات سے یہ درخواست کی تھی کہ اس ملک میں اور رہر اس ملک میں جہاں مسلماں اقلیت میں ہیں، مسلمانوں کے مستقبل کا تحفظ اس کے بغیر ممکن نہیں ہے، کہ مسلمان اپنے تعلیمی ادارے خود قائم کرے۔ بہت سے ملکوں کے اندر Sunday Schools ہوتے تھے کہ اتوار اتوار کے دن بچے آ کر وہاں دینی معلومات حاصل کرتے تھے بہت سے جگہوں پر اب بھی ہیں شام کے وقت میں Evening Classes ہوتی ہیں، اور اس میں بچے آ کر پڑھ لیتے

ہیں ، لیکن حقیقت یہ ہے کہ وہ sunday schools ہو یا Evening Classes ہو ؛ وہ بچہ جس اسکول میں پڑھ رہا ہے Regular پڑھ رہا ہے اس میں اس نے ۶ گھنٹے یا ۸ گھنٹے جو کچھ سیکھا ہے کہ جس قسم کی فضا کا اثر اس نے قبول کیا ہے وہ شام کو آ کر کسی Evening Class میں اس اثر کو دھو نہیں سکتا بلکہ بسا اوقات بچوں کے ذہن پر یہ تأثر قائم ہوتا ہے، کہ یہ تو وہ مضامین ہیں جس نے مجھ سے میری چھٹی چھینی ہیں ،وہ sunday School ہو یا Evening Classes ہو۔

لہذا ۱۹۷۸ م میں میں نے جو گزارش کی تھی وہ یہ تھی کہ خدا کے لئے یہاں اپنے تعلیمی ادارے قائم کریں ، اس وقت کی بات ایسی لگتی تھی جیسے کہ صحراء میں ایک بات کہدی گئی اور بظاہر اس کے پورا ہونے کا کوئی امکان اس سے نظر نہیں آتا تھا کہ مسجدوں کا قال پڑا ہوا تھا تو چہ جائے کہ کوئی اسلامی اسکول قائم ہو لیکن اللہ تبارک وتعالی نے اپنے فضل و کرم سے آپ حضرات کو یہ ہمت یہ توفیق یہ جذبہ عطا فرمایا جس کے نتیجے میں الحمد للہ اب تقریبا ہر بڑے شہر کے اندر اور چھوٹے اداروں کے اندر بھی اپنے تعلیمی ادراے قائم ہو رہے ہیں. اس پر آپ حضرات کو جتنی مبارک باد کہی جائے کم ہے ،ہم کیوں ان تعلیمی اداروں پر زور دیتے ہیں؟ بات یہ ہے کہ جتنے بھی علوم انسان کے فائدے کے لئے مرتب اور مدون کئے گئے ہیں اکثر وہ ہیں کہ ان میں سے کسی علم میں بذات خود کوئی خرابی نہیں ہوتی بلکہ اگر اس کو ٹھیک طریقہ سے پڑھا اور پڑھایا جائے اور سلامت فکر کے ساتھ اس کی تعلیم دی

جائے تو وہ اللہ تبارک وتعالی تک پہونچنے کاذریعہ ہوتے ہیں۔ **لیکن خرابی علم میں نہیں آتی خرابی اس علم کے مرتب کرنے والے کی ذہنیت میں آتی ہے، خرابی اس کے پڑھانے والے میں آتی ہے، خرابی اس ماحول میں آتی ہے جس ماحول میں اس کو پڑھایا جائے۔**

سائنس اللہ تبارک وتعالی تک پہونچنے کا بہت ہی مؤثر ذریعہ ہے لیکن آپ دیکھتے ہیں کہ بہت سے وہ لوگ جو سائنس کے اندر اعلی درجہ کا کمال حاصل کئے ہوئے ہیں وہ بجائے اس سے کہ اللہ تبارک وتعالی تک پہونچتے اللہ تبارک وتعالی کے انکار تک پہونچ جاتے ہیں. بات کسی علم یا فن کے اپنے بذات خود خراب ہونے کی نہیں ہے بات اس کی ہے کہ اس کو کون پڑھارہا ہے اور کس طرح پڑھارہاہے اور کس ذہنیت کے ساتھ پڑھارہاہے اور اس کے لئے کیاماحول تیار کررہاہے، کیونکہ جو غیر مسلم تعلیمی ادارے ہیں ان کا خمیر ہی اس بات پر اٹھاہے کہ وہ مادہ پرستی کے ماحول کے اندر وہ علوم پڑھائے جاتے ہیں اور اسی ماحول کے اندر بچہ کی نشو نما ہوتی ہے۔ اس لئے اس سے بچہ جب نکلتاہے تو وہ دین بیزار ہوتا ہے ہم جو اس بات پر زور دیتے ہیں کہ مسلمانوں کے اپنے صحیح اسلامی ادارے ہوں؛ اس کی وجہ یہ ہے کہ وہی علوم اگر صحیح ذہنیت کے ساتھ صحیح جذبہ کے ساتھ پڑھائے جائیں تو وہ اللہ تک انسان کو پہونچانے والے ہوتے ہیں۔ بات یہ ہے کہ علم حقیقت میں وہ علم ہے جو انسان کو اپنی زندگی کے مقصد سے روشناس کرائے، جو علم انسان کو یہ نہ بتاسکے کہ وہ دنیا میں کیوں آیا اس کی زندگی کا مقصد کیاہے کہاں اسے جاناہے اور اس کو اس دنیا کے اندر کس طرح

زندگی گزارنا ہے تو وہ علم نہیں وہ جہل ہے، اللہ تبارک وتعالی نے ہمیں جو سب سے بڑی اہم چیز عطا فرمائی وہ یہ کہ ہمیں اپنی زندگی کا مقصد بتایا آپ دیکھتے ہیں کہ صدیوں سے یہ نظام چلا آرہا ہے کہ انسان پیدا ہوتا ہے بچہ ہوتا ہے جوان ہوتا ہے بوڑھا ہوتا ہے اور پھر آخر میں دنیا سے چلا جاتا ہے، کوئی آدمی یہاں ہمیشہ کے لئے نہیں رہتا یہ اس بات کی علامت ہے کہ یہ دنیا اس کی منزل نہیں یہ ایک سفر ہے جو وہ طے کر رہا ہے اور کوئی سفر بغیر مقصد کے نہیں ہوتا۔ اگر انسان کو اپنی زندگی کا مقصد معلوم نہ ہو وہ یہ سمجھے کہ میں اسی طرح پیدا ہوا ہوں جس طرح جانور پیدا ہوتے ہیں کہ وہ بھی کھاتے ہیں پیتے ہیں اور مرجاتے ہیں تو میرا بھی زندگی کا اس طرح کوئی مقصد نہیں ہے تو انسان میں اور جانور میں کوئی فرق نہیں رہتا اللہ تبارک وتعالی نے ہمارے دین کے ذریعہ ہمیں یہ بتایا کہ تمہارے دنیا میں آنے کا مقصد کیا ہے۔ اور یہی وہ احساس ہے جو انسان کو جرائم سے ظلم وستم سے حق تلفیوں سے بچاتا ہے۔

آپ آج کی دنیا کے فلسفوں کا مطالعہ کریں تو لوگ اس پر بحث کرتے ہیں کہ دنیا میں جرائم کیوں ہوتے ہیں حق تلفیاں کیوں ہوتی ہیں؟ کوئی کہتا ہے کہ اس کا سبب فقر وافلاس، کوئی کہتا ہے کہ تعلیم کی کمی، مختلف اسباب اسکے بیان کئے جاتے ہیں۔ لیکن اگر فقر وافلاس سبب ہو تو جہاں انسان کی دولت کا کوئی شمار نہیں ہے وہاں پر وہ جرائم ختم ہو جانا چاہئے لیکن یہ آپ دیکھتے ہیں جن مما لک کے اندر دولت کے ریل پیل ہیں وہاں جرائم سب سے زیادہ ہیں۔ اگر محض تعلیم کی کمی سبب ہو تو جہاں سو فیصد تعلیمی شراب موجود ہے، جن

مما لک میں وہاں جرائم ختم ہونے چاہئے لیکن نہیں ختم ہوتے، تو جرائم کو ختم کرنے کا واحد راستہ یہ ہے کہ انسان کے دل میں یہ احساس پیدا ہو کہ میں کیوں اس دنیا میں آیا ہوں اور کس نے مجھے بھیجا ہے اور مجھے ان کے پاس جا کر اپنی زندگی کے ایک ایک عمل کا جواب دینا ہے، جب تک یہ علم حاصل نہ ہو اس وقت تک انسان کے دل میں ذمہ داری کا احساس پیدا نہیں ہوتا اور اچھا انسان بننے کے پوزیشن میں نہیں ہوتا تو مولانا رومی رحمۃ اللہ علیہ نے فرمایا: مثنوی میں کہ

سع :

جان جملہ علم ہاں اینست واپس کہ بیگانی من کے اندر یوم الدین

(کہ سارے علم کی جان یہ ہے کہ تمہیں یہ پتہ چلے کہ جب اللہ تبارک وتعالی کے سامنے پیش ہوگے تو تمہارا کیا حال ہوگا میں کس شمار قطار میں ہونگا جب اللہ تبارک وتعالی کے یہاں پیش ہونگا ) یہ علم سب سے بڑا علم ہے۔ اور اگر یہ نہیں تو آدمی چاہے سائنس داں بن جائے، چاہے انجینئر بن جائے چاہے ڈاکٹر بن جائے چائے عالم بن جائے لیکن اگر اس کے دل میں آخرت کی فکر نہیں اللہ تبارک وتعالی کے سامنے جواب دہی کا احساس نہیں تو وہ سارے علم جہل ہے وہ علم جہل ہے جو دکھائے کر رہا ہے، دوست وہ مدرسہ وبال جہاں یاد حق نہ ہو!

اللہ تبارک وتعالی نے ہمیں جو دین عطا فرمایا اس میں یوں فرمایا کہ تمہارے دنیا بھی دین بن سکتی ہے تمہاری ساری دنیا دین ہے دین تک پہونچنے کا زینہ یہی دنیا ہے۔ اور اس دنیا کے اندر ہم کو یہ سکھایا کہ دعاء یہ مانگو

﴿ربنا آتنا في الدنيا حسنة وفي الآخرة حسنة وقنا عذاب النار ﴾ تمہارے دنیا بھی ٹھیک ہو تمہارے آخرت بھی صحیح ہو۔

اسلامی اسکولوں کے ذریعہ اسلامی تعلیمی اداروں کے ذریعہ اس فکر کی آبیاری چاہتے ہیں کہ بچہ چاہے ڈاکٹر ہو؛ چاہے وہ سائنس داں ہو؛ چاہے وہ انجینئر ہو؛ زندگی کے کسی بھی شعبہ میں چلا جائے؛ لیکن اس کو یہ احساس ہو کہ ''میں اللہ کا بندہ ہوں میں خدا بن کر اس زمین پر نہیں آیا میں اللہ تبارک وتعالی کا بندہ بن کر آیا ہوں اور مجھے ایک دن اپنے اللہ تعالی کے سامنے جواب دینا ہے''۔ یہ احساس جس دن پیدا ہو گیا تو اس دن آپ دیکھئے یہ انشاء اللہ دنیا کا گہوارہ امن کا گہوارہ بن جائے گا اس لئے اسلامی تعلیمی ادارے وہ درحقیقت بندہ کو اللہ تبارک وتعالی سے ملانے کا ایک ذریعہ ہے اور اس کے ذریعہ اپنی زندگی کو استوار کرنے کا ایک ذریعہ ہے۔ تو یہ (اسکول) مبارک باد دینے کے مستحق ہے اور اس بات کی ضرورت ہے کہ ان کی تعداد میں مزید اضافہ ہو اور ہماری پوری کمیونیٹی وہ ایسی ہو کہ اس کے تعلیمی ادارے اپنے مستقل ہوں اور بچے اپنی استعداد سے اس میں دینی مزاج ودینی ماحول کے اندر رہ کر علم حاصل کریں علم کے اندر بھی اعلی معیار ان کو حاصل ہو اور دینی اعتبار سے ان کی تربیت بھی ایسے ماحول میں ہو کہ اس کے نتیجہ میں وہ اچھے مسلمان بن کر دنیا کے سامنے بہترین نمونہ پیش کریں خاص طور سے ان ممالک کے اندر......

اللہ تبارک وتعالی کے فضل وکرم سے اس بچہ نے قرآن کریم کا حفظ

مکمل کیا۔ اس اسکول کے ذریعہ مکمل کیا۔ ساتھ ساتھ اس میں ظاہر ہے کہ اور بھی مضامین پڑھے ہونگے۔ اللہ تبارک وتعالی اس کی برکت سے انشاء اللہ دوسرے مضامین کے اندر بھی اس کو مہارت عطافرما۔

لیکن دوسری بات میں اس کی طرف متوجہ کرناچاہتاہوں ؛وہ یہ کہ علم محض تعلیمی ادارے کے ذریعہ حاصل ہونے سے جو مکمل مقصد ہے وہ حاصل نہیں ہوتا جب تک کے گھر کا ماحول اس تعلیمی ادارے کے مزاج کے مطابق نہ ہو ،اگر تعلیمی ادارہ تو یہ سکھارہاہے بچہ کو کہ تم نماز پڑھوگے، بچوں کو سکھارہاہے کہ تم کھانا اس طرح کھاؤگے اور یہ سکھارہاہے کہ فلاں کام ناجائز اور گناہ ہے اور گھر میں وہ جاتاہے تو اپنے ماں باپ کو وہی گناہوں میں مبتلا دیکھتاہے جن کو تعلیمی ادارہ اور استاذ بتارہاہے کہ یہ ناجائز کام ہے، تو اس کے دل میں تضاد پیدا ہو جاتاہے اور اس تضاد کے نتیجہ میں اس کی زندگی کبھی متوازن نہیں رہ سکتی لہذا جتنی بڑی ذمہ داری تعلیمی اداروں کی ہے کہ وہ اپنے بچوں کی تربیت کریں اس سے زیادہ ذمہ داری ان کے بچوں کے والدین کی ہے کہ جب بچے ان کے پاس آئیں تو وہ اس بات کو غنیمت سمجھیں کہ جو کام وہ خود نہیں کرپائیں اپنی زندگی کے اندر بچے ان کی طرف لارہے ہیں۔ میں نے ایسے تعلیمی ادارے دیکھے ہیں یقینا یہاں پر بھی ہونگے کہ بچے جو کچھ سیکھ کے جاتے ہیں، بعد میں ماں باپ کو سیکھاتے ہیں اور ماں باپ ان کے ذریعہ سیکھتے ہیں اور ماں باپ کا ماحول درست ہوتاہے یہ صورت حال اس وقت پیدا ہوگی جب ہر فرد جو اسلامی اسکول میں اپنے بچوں کو بھیج رہاہے اس کے دل میں اس بات کا احساس ہو کہ یہ بہت بڑا

کارنامہ ہے جو میں اپنے بچے کو وہاں پر بھیج کر انجام دے رہا ہوں۔ اور جو بچہ وہاں سیکھے گا مجھے بھی اپنی زندگی کے اندر اس کو اپنانا ہے اور میں ایسا ماحول اس کو فراہم کرنا ہے جس کے ذریعہ سے جو کچھ وہ سیکھ کر آیا ہے اس کو وہ پختہ کر سکے، اور اس کے مطابق اس کی زندگی استوار ہو سکے۔ یہ احساس اگر ہو گا تو پھر ہم آہنگی کے ساتھ انشاء اللہ جو قوم ابھرے گی جو نسل پڑوان چڑھے گی وہ دنیا اور آخرت دونوں کے اعتبار سے وہ صلاح وفلاح کے حامل ہو گی۔

لہذا مختصر پیغام یہ ہے کہ جو والدین اور گھر والے اپنے بچوں کو ان تعلیمی اداروں کی طرف بھیج رہے ہیں وہ اس بات کی ذمہ داری محسوس کریں کہ بچوں کو جو کچھ پڑھایا جارہا ہے اس کی عملی تربیت ان کو خود اپنے گھروں کے اندر بھی دینی ہے، اور خود بھی اس کے اوپر عمل کرنے کی کوشش کرنی ہے، یہ ہو گا تو انشاء اللہ ......اللہ تعالی کی رحمت سے جس رفتار کے ساتھ یہاں پر مسلمانوں کے دینی ماحول کے اندر اللہ کے فضل و کرم سے ترقی ہو رہی ہے اور زیادہ اضافہ ہو گا اور آپ دنیا کے لئے ایک مثال بن سکیں گے اللہ تبارک وتعالی اپنے فضل و کرم سے اپنی رحمت سے ہم سب کو اس کی توفیق عطا فرمائیں اور ان اداروں کے فائدے کو عام اور تام فرمائیں اور صرف اخلاص کے ساتھ ان کی محنتوں کو قبول فرمائیں۔

(وآخردعوانا أن الحمد لله رب العالمين)

بسم الله الرحمن الرحيم

- အစ္စလာမ်က ပထဝီ၊ သိပ္ပံ၊ သမိုင်း အစရှိတဲ့ လောကီပညာရပ် တွေကို ဘယ်လိုရှုမြင်သလဲ....။
- ယနေ့ လက်ရှိ သာသနာ့ပညာသင် ကျောင်းတွေမှာ ပညာရေး စနစ်တွေ ပြောင်းလဲဖို့ လိုအပ်၊ မလိုအပ်.....။
- ဘာသာရပ်အစုံ သင်ကြားပေးတဲ့ *Private School* များ တည်ထောင်ဖို့ သင့်၊ မသင့်.....။
- နိုင်ငံတကာ *University* တွေမှာ စာရိတ္တပိုင်းဆိုင်ရာ ယို ယွင်းမှုတွေ ဘာကြောင့်ဖြစ်နေရသလဲ...။
- ယနေ့ ကမ္ဘာနှင့်အဝှမ်း ဖြစ်ပေါ်နေတဲ့ ပြစ်မှုတွေရဲ့အဖြေက ဘာလဲ....။ပညာမဲ့မှုလား...၊ ဆင်းရဲမွဲတေမှုလား....။

စတဲ့ မေးခွန်းပေါင်းများစွာအတွက် ထိရောက်တဲ့ အဖြေတွေကို မြန်မာ၊ အင်္ဂလိပ်၊ အူရ်ဒူ သုံးဘာသာနဲ့ သီကုံးတင်ပြထားပါသည်။